တည်းနဲ့သာ သက်ဆိုင်တာမဟုတ်ပါဘူး။ အတိအကျပြောရရင် အခြေအနေတိုင်း အချိန်အခါတိုင်းမှာ အပြုသဘောဆောင်တဲ့ ကိစ္စတွေကို လိုက်စားဖို့လည်း ကျွန်တော်တို့မှာ တာဝန်ရှိပါတယ်။ ကျယ်ပြောလှတဲ့ စကြဝဠာမှာ လူသားတွေ ရှင်သန်နိုင်တဲ့နေရာက သေးငယ်တဲ့ ကမ္ဘာတစ်ခုတည်းသာရှိတာပါ။ ဒီနေ့အထိ စကြဝဠာထဲမှာ လူသားတွေရှင်သန်ရပ်တည်နိုင်မယ့် အခြားနေရာတစ်ခု ရှာမတွေ့သေးပါဘူး။ ဒါကြောင့် သဘာဝ ဝန်းကျင်ကို ထိန်းသိမ်းခြင်းဟာ သက်ရှိလောကကို အကျိုးပြုခြင်းနဲ့ အဓိပ္ပာယ်တူပါတယ်။ သဘာဝတရားကို ဖျက်ဆီးရင် သက်ရှိလောက လုံးဝကွယ်ပျောက်သွားမှာပါ။ တိုတိုပြောရရင် အပြုသဘော နေထိုင်ရှင်သန်မှုမှာ အစဉ်တစိုက်စိတ်ပါဝင်စားနေခြင်းဟာ သက်ရှိတွေကို ကယ်ဆယ်ခြင်းသဘောသက်ရောက်ပါတယ်။ အဲဒီလိုမလုပ်ဖူးဆိုရင်တော့ ဒါဟာ ကိုယ့်ကိုယ်ကိုလုပ်ကြံနေတဲ့နည်းလမ်းတစ်ခုပါပဲ။

ထာဝရဘုရားသခင်ဖန်ဆင်းထားတဲ့ လှပတဲ့ သဘာဝလောကဟာ လူတွေကြောင့် ကောင်းကောင်းကြီးပျက်ဆီးရကိန်းဆိုက်နေပါပြီ။ ပျံ့နှံ့နေတဲ့ အကြမ်းဖက်မှုတွေ၊ သဘာဝဝန်းကျင်ဖျက်ဆီးမှုတွေ၊ ကမ္ဘာကြီးပူနွေးမှုတွေဟာ တတိယကမ္ဘာစစ်ဖြစ်မှာထက်ပိုပြီး အန္တရာယ်များပါသေးတယ်။ တကယ်တော့ ဒီကိစ္စတွေကပဲ ကျွန်တော်တို့အတွက် တတိယကမ္ဘာစစ်သဖွယ်ဖြစ်လို့နေပါပြီ။ ဒါဟာ ဒီကနေ့ ကျွန်တော်တို့ရင်ဆိုင်နေရတဲ့ အကြီးမားဆုံး ခြိမ်းခြောက်မှုကြီးပါပဲ။ လူသားအားလုံး စိတ်ဝင်စားနေတဲ့ သဘာဝတရားကို ကျွန်တော်တို့ ညီညွတ်စွာမှန်ကန်ရိုးသားစွာ ကယ်တင်မှုလုပ်ရပါလိမ့်မယ်။ နောက်ပြီး ဒီအလုပ်ဟာ ငြိမ်းချမ်းတဲ့နည်းနဲ့ ချဉ်းကပ်မှလည်း အောင်မြင်မှာဖြစ်ပါတယ်။

## ငြိမ်းချမ်းရေးရစေနည်း

စိတ်ရဲ့ငြိမ်းချမ်းရေး၊ မိသားစုငြိမ်းချမ်းရေး၊ သဘာဝလောကငြိမ်းချမ်းရေးစတဲ့ ငြိမ်းချမ်းရေးကိစ္စဟာ အကောင်းဆုံးရှင်သန်ရာဘဝလမ်းအတွက် မရှိမဖြစ်ကိစ္စပါ။ ယနေ့ကျွန်တော်တို့ရဲ့ ခေတ်သစ်နည်းပညာကမ္ဘာမှာ လူသားဟာ ဆန္ဒရှိရာတိုင်းကို အောင်မြင်နေသလိုပါပဲ။ သို့သော် ငြိမ်းချမ်းရေးပျောက်ဆုံးနေရင် အရာရာ အဓိပ္ပာယ်မဲ့ရပါတယ်။

ချိန်ခွင်လျှာတစ်ဖက်စောင်းနင်းနဲ့ ဟန်ချက်မပျက်အောင် ထိန်းညှိပေးဖို့လိုအပ်တဲ့ အရာတွေက မေတ္တာတရား၊ ကရုဏာတရား၊ သည်းခံခြင်း၊ စိတ်ရှည်ခြင်းနဲ့ ပူးပေါင်းနေထိုင်လိုစိတ်ရှိခြင်းတွေပါပဲ။ ဘဝရဲ့ ထင်ရှားတဲ့ သဘာဝတစ်ခုက လူတစ်ဦးနဲ့ တစ်ဦးအကြား အမြင်ကွဲပြားမှုရှိနေခြင်းပါ။

အချို့က ညီညွတ်ခြင်းကို ဆောင်ကြဉ်းတဲ့အခါ ကွဲပြားချက်တွေကို ရှင်းထုတ်ပစ်ဖို့ လိုအပ်တယ်လို့ ခံယူထားပါတယ်။ ဒါပေမဲ့ ဒီအမြင်က မခိုင်မာဘူး။ လက်တွေ့လည်းမကျဘူး။ နှင်းဆီပန်းတွေမှာရှိနေတဲ့ ဆူးတွေကို သင်ကြိုက်ချင်မှကြိုက်ပါလိမ့်မယ်။ ဒါပေမဲ့ အဲဒီဆူးတွေအကုန်လုံးကို သင်လိုက်ဖယ်ဖို့မလွယ်လှဘူး။ ဆူးရှိတဲ့ အပင်တွေ ကင်းစင်သွားအောင်ရှင်းပစ်ဖို့ မလွယ်လှဘူး။ မလွယ်ရတဲ့ အကြောင်းကဆူးတစ်ခုကို ဖယ်ပစ်လိုက်ရင် အဲဒီနေရာမှာ နောက်ဆူးတစ်ခု ပြန်ထွက်လာဦးမှာပါ။ တကယ်လို့ နှင်းဆီခင်းတစ်ခုလုံးကို ဘူဒိုဇာနဲ့ ထိုးပစ်လိုက်ရင်လည်း နောက်ထပ်နှင်းဆီပင်အသစ်တွေဟာ ဆူးမကင်းစွာနဲ့ဘဲ အဲဒီနေရာမှာ ပြန်ပေါက်လာဦးမှာပါ။

ဒီကိစ္စမှာ နှင်းဆီပန်းရဲ့ ဆူးရှိနေမှုကို နားလည်သည်းခံပေးရုံသာရှိပါတယ်။ ဒီအတိုင်းပဲ ငြိမ်းချမ်းတဲ့ လူ့ဘောင်ကို ဖန်တီးနိုင်ဖို့က ကွဲပြားခြားနားမှုတွေအပေါ် သည်းခံစိတ်မွေးနိုင်မှ ဖြစ်မှာပါ။

ဘာပဲဖြစ်ဖြစ် လူသားဟာ တစ်ခြားသူတွေရဲ့ အားနည်းချွတ်ယွင်းချက်တွေကို လေ့လာပြီး နားလည်ပေးနိုင်စွမ်းရှိမှသာ ငြိမ်းချမ်းတဲ့ဘဝကို အောင်အောင်မြင်မြင် တည်ဆောက်နိုင်မှာပါ။ ထာဝရဘုရားသခင်ရဲ့ ဥပဒေအရ သင့်ရဲ့ လိုအပ်ချက်တွေကို ဖြည့်ဆည်းပေးနိုင်မယ့် အရာတွေကိုသာ ကမ္ဘာလောကဆီက ရယူခွင့်ရှိပါတယ်။ အလိုရမ္မက်ကြီးမှုတွေကို ဖြည့်ဆည်းဖို့ မရယူသင့်ပါဘူး။

သင်ဟာ အခြားလူတွေနဲ့ စီးပွားရေးလုပ်နိုင်ပါတယ်။ ဒါပေမဲ့ သူတို့ကို ခေါင်းပုံဖြတ်ဖို့တော့ ကြိုးစားခွင့်မရှိဘူး။ သင့်ကိုယ်သင်တိုးတက်ရာတိုးတက်ကြောင်း ရှာနိုင်တယ်။ ဒါပေမဲ့ မိသားစုနဲ့ လူ့အဖွဲ့အစည်းကို နစ်နာအောင်လုပ်ပြီးမှ ကိုယ်တိုးတက်မှာမျိုးတော့ မလုပ်သင့်ပါဘူး။ နေ့စဉ်ဖြစ်တည်မှုမှာ လူမှုအစဉ်အလာတွေကို ထိန်းသိမ်းရင်း သင့်ဘဝကို လမ်းကြောင်းနိုင်ပါတယ်။ ဒါပေမဲ့ အဲဒီလူမှုအစဉ်အလာတွေကို ဖျက်ဆီးပြီး ဘဝလမ်းကြောင်းခွင့်တော့ မရှိပါဘူး။ သင့်ဘဝကို သင်ပဲ့နှင်ဖို့ ကိုယ်ပိုင်လွတ်လပ်ခွင့်ရှိပါတယ်။ ဒါပေမဲ့ ကျန်တဲ့သင့်ပတ်ဝန်းကျင်ကိုလည်း တွဲခေါ်သင့်ပါတယ်။ လျစ်လျူမရှုသင့်ပါ။ လူသားတွေအကျိုးအတွက် အရင်းအမြစ်တွေကို အကျိုးရှိရှိ သုံးစွဲနိုင်ပါတယ်။ ဒါပေမဲ့ အဲဒီအရင်းအမြစ်တွေ ပျက်စီးရာပျက်စီးကြောင်းတော့ မလုပ်သင့်ပါ။ ငြိမ်းချမ်းတဲ့နည်းတွေကို သင်လွတ်လွတ်လပ်လပ်သုံးစွဲနိုင်ပါတယ်။ ဒါပေမဲ့ အကြမ်းဖက်မှုအတွက်တော့ လွတ်လပ်ခွင့်ကို အလွဲသုံးစားမလုပ်နိုင်ပါဘူး။ သဘာဝတရားကို သင်အသုံးချနိုင်ပါတယ်။ သဘာဝတရားရဲ့ ဟန်ချက်ပျက်အောင်တော့ ဘယ်တော့မှ သင်ဖျက်ဆီးခွင့်မရှိပါဘူး။

ငြိမ်းချမ်းရေးကို ဘယ်လိုရနိုင်မလဲ။ ဒီဖော်မြူလာက အရမ်းရိုးရှင်းပါတယ်။ တစ်ခြားလူတွေရဲ့ ပိုင်ခွင့်ကို လုယူတာမျိုး မဖြစ်စေဘဲ သင့်ခွဲတမ်းကို သင်ယူပါ။ တစ်ခြားသူတွေကို မနစ်နာစေတဲ့နည်းနဲ့ သင့်လိုအပ်ချက်တွေကို သင်ဖြည့်ဆည်းပါ။

အချုပ်ပြောရရင် အခြားသတ္တဝါတွေကို ပြဿနာမပေးတဲ့ နည်းလမ်းနဲ့ ကိုယ့်ပြဿနာတွေကို ကိုယ်ဖြေရှင်းပါ။ ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ခြင်းသာလျှင် ဟောဒီကမ္ဘာပေါ်မှာ တစ်ခုတည်းသော နေနည်းထိုင်နည်းဖြစ်ပါတယ်။


အချက်အလက်များ ပိုမိုသိရှိလိုပါက ဆက်သွယ်ရန်-

**Positive Thinkers Forum**
Peace and Spirituality Centre
Bangalore 560 022, India.
Tel : 091 23376184 Cell : 09342899616
E-mail: al-falah@live.com
E-mail: ptf.myanmar@gmail.com
Visit at www.cpsglobal.org www.cps.org@live.com




# The Ideology of Peace

Maulana Wahiduddin Khan



# ငြိမ်းချမ်းရေးရဲ့သဘော




ဆရာကြီး W. ခန်း

-ကန့်သတ်-

( ဓမ္မလက်ဆောင် )

## ငြိမ်းချမ်းရေးရဲ့သဘော 

**"စစ်မက်ကင်းဝေး ငြိမ်းချမ်းရေး"** . . . တဲ့။

ငြိမ်းချမ်းရေးဆိုတာကို ပညာရှင်တွေက အဲဒီလိုဖွင့်ဆိုသတ်မှတ်ခဲ့ကြတယ်။ သွေးထွက်အောင် မှန်ပါတယ်။ တကယ်တော့ ငြိမ်းချမ်းရေးဆိုတာ စစ်နဲ့ ဆူပူအုံကြွမှုတွေ ကင်းရှင်းနေခြင်းပါပဲ။

ဒါပေမဲ့ တစ်ချို့ကတော့ ဒီဖွင့်ဆိုချက်ဟာ မလုံလောက်သေးဘူးလို့ လက်ခံထားကြပြန်တယ်။ သူတို့ပြောတာက ငြိမ်းချမ်းရေးဟာ တရားမျှတမှုနဲ့ တွဲဖက်နေသင့်တယ်တဲ့။ တရားမျှတမှုကင်းမဲ့တဲ့ ငြိမ်းချမ်းရေးဟာ ငြိမ်းချမ်းရေး မမည်ဘူးတဲ့။ ဒါကြောင့် ကမ္ဘာတစ်လွှားက လူတွေဟာ 'ငါတို့အပေါ်မှာ တရားမျှတမှုရှိရင် ငြိမ်းချမ်းရေးလည်း ရှိလာလိမ့်မယ်'လို့ပြောပြီး တရားမျှတရေး တံဆိပ်ကပ်ထားတဲ့ ဆူပူလှုပ်ရှားမှုတွေမှာ သူတို့ စီးမျောနစ်ဝင်လာကြတယ်။ ခန္တီတရား မဲ့ အပြုအမူတွေနဲ့ တုံ့ပြန်လာကြတယ်။

ကျွန်တော့်သဘောကတော့ ဒီလိုအခြေအနေမျိုးနဲ့ ငြိမ်းချမ်းရေးရဖို့ဆိုတာက လက်တွေ့မဆန်လှပါဘူး။ ငြိမ်းချမ်းရေးက တရားမျှတမှုကို ဖန်တီးရာဖန်တီး ကြောင်း ကိစ္စမဟုတ်ဘူး။ ဒီတော့ တရားမျှတမှုကလည်း ငြိမ်းချမ်းရေးရဲ့ အခြေခံတစ်ခု ဖြစ်စရာမလိုဘူး။

'တရားမျှတရေး'ခေါင်းစဉ်တပ်ပြီး လူတွေကြမ်းရမ်းလာတဲ့အခါ ငြိမ်းချမ်းရေး ကပိုလို့တောင် ဝေးသွားရပါသေးတယ်။ ဘာကြောင့်လည်းဆိုတော့ ဆူပူအုံကြွမှုရှိနေတဲ့ ဝန်းကျင်ဒေသမှာ အကျိုးမဲ့မှုတွေသာ ဖြစ်ပေါ်တတ်တဲ့ သဘောရှိလို့ပါ။ ငြိမ်းချမ်းရေးကို ငြိမ်းချမ်းရေးအတွက်သာ လိုလားခုံအပ်မင်ပါတယ်။ တစ်ခြားတစ်ခြားကိစ္စရပ်မှန်သမျှဟာ ငြိမ်းချမ်းရေးနဲ့ မပတ်သက်ပါ။

လူတွေက ငြိမ်းချမ်းရေးကို မျှော်ကိုးပြီး သည်းခံလာကြမယ်ဆိုရင် အခွင့်အလမ်းတွေ ပွင့်လန်းလာမှာပါ။ သူတို့မျှော်မှန်းရာ ခရီးပန်းတိုင်ကို ပေါက်မြောက်စေရာ အလားအလာကောင်းတွေလည်း ဖန်တီးနိုင်မှာပါ။ ဒီအခါမှာ နောက်ဆက်တွဲအနေနဲ့ တရားမျှတမှုဆိုတာကိုလည်း ရလာမှာပါပဲ။ အပြုသဘောဆောင်တဲ့ ပဏာမခြေလှမ်းတွေလည်း ဖြစ်ထွန်းအောင်မြင်လာဦးမှာပါပဲ။

ဒီနည်းစနစ်နဲ့ အောင်မြင်သွားတဲ့ အခိုင်အမာသာဓကလေးတစ်ခု ပြပါရစေ။ ဂျပန်နိုင်ငံရဲ့ စက်မှုမြို့ ၂ မြို့ဖြစ်တဲ့ ဟီရိုရှီးမားနှင့် နာဂါဆာကီဟာ ၁၉၄၅ခုနှစ်မှာ အနုမြူဗုံးနဲ့ ဖျက်ဆီးခံခဲ့ရပါတယ်။ ဒီအဖြစ်ဆိုးကြီးနဲ့ ရင်ဆိုင်ခဲ့ရပြီးနောက် ဂျပန်နိုင်ငံဟာ အကြမ်းအရမ်းကိစ္စတွေကို ရှောင်ကြဉ်ပြီး နိုင်ငံဖွံ့ဖြိုးရေးအတွက် ငြိမ်းချမ်းရာ ငြိမ်းချမ်းကြောင်းတွေကိုသာ ရှာကြံခဲ့ပါတော့တယ်။ ဒီအတွက် အကျိုးရလဒ်က နှစ်ပေါင်း ၄၀ ကာလတိုအတွင်းမှာ ကမ္ဘာ့စီးပွားရေးထိပ်သီး နိုင်ငံဖြစ်လာတာပါပဲ။

ဒါကြောင့် အကြမ်းနည်းနဲ့ ကြိုးပမ်းလို့ အချိန်တွေကြာလည်း အောင်မြင်မှုရဖို့က ကမ်းမမြင်လမ်းမမြင်ပါ။ ငြိမ်းချမ်းတဲ့နည်းနဲ့ ကြိုးပမ်းရင်တော့ အချိန်တိုတိုအတွင်းမှာလည်း ခရီးပေါက်နိုင်ပါတယ်။

ငြိမ်းချမ်းရေးကို တည်ဆောက်နိုင်ဖို့ လက်တွေ့ကျတဲ့ ဖော်မြူလာက–

**"ပြဿနာတွေ ဘေးချိတ်ကာ၊ အခွင့်ကောင်းကို ဖမ်းဆုပ်ပါ"**တဲ့။

ဒါဟာ အစ္စလာမ်ကပေးတဲ့ ငြိမ်းချမ်းရေးဆိုင်ရာ သဘောထားအမြင်ပါ။ ဒီအတိုင်း ဟိုဒိုင်ဗီယာငြိမ်းချမ်းရေးစာချုပ်မှာ တမန်တော်မုဟမ္မဒ်က စံနမူနာ ကျင့်သုံးပြခဲ့ဖူးပါတယ်။

## ငြိမ်းချမ်းရေး သို့မဟုတ် အဖြည့်ခံကျင့်ထုံး 

ငြိမ်းချမ်းရေးက အပြုစိတ်ရဲ့ ထွက်ကုန်ဖြစ်ပြီး၊ အကြမ်းဖက်မှုက အပျက်စိတ်ရဲ့ထွက်ကုန်ဖြစ်တယ်။

ငြိမ်းချမ်းရေးက လူ့အဖွဲ့အစည်းရဲ့ မူမှန်အခြေအနေဖြစ်ပြီး အကြမ်းဖက်မှုက လူ့အဖွဲ့အစည်းရဲ့ မူမမှန်အခြေအနေဖြစ်တယ်။

ငြိမ်းချမ်းရေးက သဘာဝထုံးတမ်းစဉ်လာနဲ့ လိုက်လျောညီထွေရှိသလောက် အကြမ်းဖက်မှုက သဘာဝထုံးတမ်းစဉ်လာနဲ့ ပြဒါးတစ်လမ်း သံတစ်လမ်း ဖြစ်တယ်။

လူ့အဖွဲ့အစည်းအတွင်းမှာ ငြိမ်းချမ်းတဲ့ အခြေအနေတွေ တည်ဆောက်ထားနိုင်ရင် လုပ်ငန်းဆောင်တာ အားလုံးချောမွေ့နိုင်တယ်။ ဒါပေမဲ့ ငြိမ်းချမ်းတဲ့ ဝန်းကျင်နှောင့်ယှက်ဖျက်ဆီးခံလိုက်ရရင် လူ့အဖွဲ့အစည်းရဲ့ ပုံမှန်လုပ်ငန်းဆောင်တာတွေလည်း ဖရိုဖရဲ ကမောက်ကမဖြစ်ကုန်တာပါပဲ။

ဒီဥပဒေသဟာ လူတွေအတွက်ဖြစ်သလို စကြဝဠာတစ်ခုလုံးအတွက်လည်း ဖြစ်တယ်။

အကြမ်းဖက်မှုနဲ့ ငြိမ်းချမ်းရေးမှာ ကျယ်ပြန့်တဲ့ အဓိပ္ပာယ်သက်ရောက်မှုတွေ ရှိနေပါတယ်။

အမုန်းခရီးတာထွက်ကနေ စစ်ပွဲပန်းတိုင်ဆီရောက်တဲ့အထိ လုံးပမ်းအားစိုက်ကြိုးပမ်းမှုခြေလှမ်းတိုင်းဟာ အကြမ်းဖက်မှုပါ။ သည်းခံစိတ်မှ မြစ်ဖျားခံပြီး မေတ္တာပင်လယ်ဆီရောက်တဲ့အထိ ဖွဲ့ လှံ့လ၊ ဝီရိယ ရေးစီးတိုင်းဟာ ငြိမ်းချမ်းရေးပါ။

အကြမ်းဖက်မှုနဲ့ ငြိမ်းချမ်းရေးနှစ်ခုစလုံးဟာ လူ့အတွေးအခေါ်က ထုတ်လုပ်လိုက်တဲ့ ထွက်ကုန်တွေချည်းပါပဲ။

ငြိမ်းချမ်းရေးဆိုတာ ပုံမှန်အခြေအနေပါ။ ပုံမှန်အခြေအနေမှာ သာယာတဲ့ ဝန်းကျင်တစ်ခု ဖွံ့ဖြိုးလာစေမယ့် အခွင့်အလမ်းမျိုးတွေရှိနေပါတယ်။ ပြင်ပအနှောင့်အယှက်ကင်းကင်းနဲ့ လူတွေနေထိုင် လုပ်ကိုင်နိုင်မဲ့ သဘာဝမူမှန် အခြေအနေတစ်ရပ် တည်မြဲအောင် ထိန်းသိမ်းထားဖို့ လိုအပ်ပါတယ်။

အကြမ်းဖက်မှုက အပြုသဘောလုပ်ဆောင်ချက်တွေအတွက် တံခါးပိတ်ထားတတ်တယ်။ ငြိမ်းချမ်းရေးကတော့ အပြုသဘောလုပ်ဆောင်ချက်တွေ တံခါးဖွင့်ပေးလေ့ရှိတယ်။ ဒီ့အပြင် အပြုသဘောဆောင်တဲ့ နေထိုင်ရှင်သန်ရာ ဝန်းကျင်တစ်ခုကိုလည်း တစ်ဦးချင်းစီကနေ လူ့အဖွဲ့အစည်းအလိုက် နိုင်ငံအလိုက်အထိပါ ကျယ်ကျယ်ပြန့်ပြန့် ဖန်တီးပေးတယ်။

ငြိမ်းချမ်းရေးဝန်းကျင်သာလျှင် အောင်မြင်မှု ဖူးပွင့်နိုင်ရာဒေသပါ။ ဆူပူ အုံကြွတဲ့ အခြေအနေတွေက အခွင့်အလမ်းတွေကို ဟန့်တားပိတ်ပင်ရင် ငြိမ်းချမ်းရေးက လူသားရဲ့ တီထွင်ဖန်တီးနိုင်စွမ်း အရည်အသွေးတွေကို မွေးယူ နိုင်မယ့် ဖွံ့ဖြိုးအောင် လုပ်နိုင်မယ့် အခြေအနေကောင်း အခွင့်ကောင်းတွေကို ရှာကြံပေးတတ်ပါတယ်။

## အနုတ်လက္ခဏာမှ အပေါင်းလက္ခဏာဆီသို့ 

ဂျာမန်စိတ်ပညာရှင် အဲလ်ဖရက်ဒ် အက်ဒလာက "တစ်ခုတည်းသော လူသားပိုင်အရည်အသွေးဟာ အနုတ်လက္ခဏာဘက်ကနေ အပေါင်းလက္ခဏာဘက်ကိုပြောင်းလဲပစ်နိုင်စွမ်းဖြစ်တယ်"လို့ ဆိုခဲ့ပါတယ်။ ဒီလိုထူးခြားတဲ့ စွမ်းဆောင်မှုမျိုးကို လူတွေလုပ်ဆောင်နိုင်ဖို့ ဘယ်အရာက တွန်းအားပေးတာပါလဲ။ တစ်ခုတည်းသောအဖြေက 'ငြိမ်းချမ်းရေး'ပါပဲ။ လူသားရဲ့ ဦးနှောက်ဟာ အကန့်အသတ်မဲ့ စွမ်းအင်တွေ သိုလှောင်ထားတဲ့ ရတနာအိမ်တစ်ခုပါပဲ။ ပဋိပက္ခ ကာလတစ်ခုမှာ လူသားဟာ ငြိမ်းချမ်းတဲ့ စိတ်ဆုံးရှုံးသွားရင် သူ့ရဲ့ စိတ်စွမ်းရည်ကို အပြုသဘောဆောင်တဲ့ နည်းလမ်းနဲ့ အသုံးချနိုင်စွမ်းမရှိတော့ပါဘူး။

အပျက်သဘော စဉ်းစားတွေးခေါ်ခြင်းဟာ လူသားရဲ့ ဖွံ့ဖြိုးမှုအတွက် အတားအဆီး တစ်ခုဖြစ်တယ်။ အပြုသဘော စဉ်းစားတွေးခေါ်ခြင်းက လူသားရဲ့ စွမ်းရည်တွေကို နှိုးဆွပေးနိုင်ပါတယ်။ ဒါကြောင့် တစ်ဦးချင်းဖြစ်စေ၊ နိုင်ငံအလိုက် ဖြစ်စေ အခြေအနေတိုင်းမှာ ငြိမ်းချမ်းရေးကို ထိန်းသိမ်းနိုင်စွမ်းရှိရင် မရေမတွက်နိုင်တဲ့ အခွင့်အလမ်းတွေ ပွင့်လာပါလိမ့်မယ်။ ဒါဟာ အနုတ်လက္ခဏာကနေ အပေါင်းလက္ခဏာကို ပြောင်းသွားစေမယ့် အခါအခွင့်ပါပဲ။

## သဘာဝ သို့မဟုတ် ငြိမ်းချမ်းရေးစံ 

လက်ရှိကမ္ဘာမှာ ကျွန်တော်တို့ရင်ဆိုင်ကြုံတွေ့နေရတဲ့ ပြဿနာအတော်များများရဲ့ အရင်းအမြစ်ကို ခြေရာခံကြည့်ရင် သဘာဝငြိမ်းချမ်းရေးစံကနေ သွေဖီခဲ့မှုကြောင့် ဆိုတာ တွေ့ရပါလိမ့်မယ်။ သဘာဝတရားဟာ ကျွန်တော်တို့လိုက်နာရမယ့် အကောင်းဆုံးစံပါပဲ။ သဘာဝတရားရဲ့ ဦးဆောင်မှုနောက်ကို ကျွန်တော်တို့ မလိုက်ခဲ့တဲ့အတွက် ဒီကနေ့ ကျွန်တော်တို့ဟာ ဆုပ်လည်းစူး၊ စားလည်းရှူး အခြေအနေတွေနဲ့ ရင်ဆိုင်ကြုံတွေ့နေကြရတာပါ။

ကြယ်တွေ၊ ဂြိုဟ်တွေဟာ သူတို့ရဲ့ ကိုယ်ပိုင်ပတ်လမ်းအတိုင်း မရပ်မနား ရွေ့လျားနေကြတယ်။ ဒါပေမယ့် သူတို့ဟာတစ်ခုနဲ့တစ်ခု တွန်းတိုက်မိတာမျိုးတွေ မရှိဘူး။ သူတို့က လူတွေအတွက် ဘဝမှာ အချင်းချင်း ပြဿနာမတက်ဘဲ ပန်းတိုင်ဆီ ခရီးဆက်နိုင်ကြဖို့ သင်ခန်းစာပေးနေကြတယ်။ ဒီလိုပဲ နေဟာလည်း အကောင်းဆုံးစံတစ်ခုပါ။ ကျွန်တော်တို့ အခြားသူတွေအတွက် လုံးဝမခွဲခြားတဲ့ နည်းလမ်းနဲ့ ဘယ်လိုရှင်သန်ခွင့်ပေးရမလဲဆိုတာကို နေက ပြသနေပါတယ်။ သစ်ပင်တွေကလည်း လူတွေအတွက် ထင်ရှားတဲ့ သာဓကတစ်ခုပါပဲ။ သစ်ပင်တွေက လူတွေအတွက် အန္တရာယ်ရှိတဲ့ ကာဗွန်ဒိုင်အောက်ဆိုက်တွေကို ကျန်းမာစေ အကျိုးရှိစေတဲ့ အောက်ဆီဂျင်နဲ့ ပြောင်းလဲဖြည့်ဆည်းပေးခဲ့ပါတယ်။ နောက်ပြီး ပန်းတွေက သူတို့ဝန်းကျင်ကို ရနံ့ဘယ်လိုသင်းပျံ့စေသလဲဆိုတာကို လေ့လာကြည့်ပါ။ ရေစီးဟာလည်း အလားတူစံတစ်ခုပါပဲ။ သူတို့ဟာ လယ်မြေတွေအတွက် ဘာတန်ပြန်အကျိုးမှ မမျှော်လင့်ဘဲ ရေပေးနေကြတယ်။ အဲဒီလို ကိုယ်ကျိုးမဖက် ပရဟိတ တန်ဖိုးတွေနဲ့ လူတွေအတွက် စွဲမက်အတုယူစရာတွေသာ သူတို့မှာ မရှိခဲ့ရင် ကမ္ဘာမြေမှာ သူတို့လည်း တန်ဖိုးမဲ့တွေပါပဲ။

ဒီကမ္ဘာပေါ်မှာ အပြုသဘောနေထိုင်ရှင်သန်ခြင်းဟာ ကိုယ်ကျင့်တရားတစ်ခု